# "လေ့ကျင့်အပ်သော တရား"

ယုံကြည်ကိုးစား - သင်အားထား
မှတ်သားသဒ္ဒါ ဖြစ်နေပြီ

စောင့်ထိန်းလိုက်နာ - ကိုယ်ချင်းစာ
မှန်စွာသီလ ဖြစ်တော့သည်

ဖတ်မှတ်ဉာဏ်ကူ - အသိယူ
မှန်မူသုတ - ဖြစ်ရသည်

ကိုယ်ချင်းစာနာ - သက်တော်ညှာ
မြဲပါစာဂ ဖြစ်တော့သည်

ဝေဖန်အရပ်ရပ် - သုံးသပ်ဆင်ခြင်
ဉာဏ်သက်ဝင် - စံရှင့်ပညာ ဖြစ်တော့သည်

မဟုတ်မတရား - မြူမှုများ
ရှောင်ရှား ဟိရိ ရှက်တတ်သူ

ဩတ္တပ္ပသူ - ကြောက်တတ်သူ
မြူမှုရှောင်ရှား - မဟုတ်တရား

ဤသည့်သဘော, စစ်ကြော, ဆင်ခြင်, ဉာဏ်သက်ဝင်၍,
နေ့စဉ်မြဲက, ကုသလယူ, ဖြစ်ချိမ့်မူ, ဟု ဆရာဗုဒ္ဓ,
ပြောဆုံးမသည်, လိုက်နာသူတို့, ကောင်းစေဘိ - - - ။

ဦးအောင်မမွှသုခဂန္ဓာရီ ခရီးသည်

# " ပေါင်းစပ်ဖြစ်တည်...ရှု့သင့်သည် "

* သူတော်ကောင်းဓါတ် - ခုနှစ်ရပ်တို့
လွှမ်းပါတ်ချည်နှောင် - လူ့ဘောင်ရောက်လာ
ထိုပညာရှိ - သတိဉာဏ်ကူ - အရယူလျှင်
လောကဓမ္မတာ - ဖြစ်တိုင်းသာရှိ
ဉာဏ်အသိနှင့် - ဖြစ်၊ တည်၊ ပျက်၊ ချုပ်
အဟုတ်မှန်စွာ - သိတတ်ပါ၏။ ---
* ဖြစ်၊ တည်၊ ပျက်၊ ချုပ် - ဟုတ်တိုင်းမှန်ရာ
မြတ်သစ္စာကို - သေချာစေ့ငု - အာရုံပြု၍
ရှေ့ရှု့တက်လမ်း - မျှော်မှန်းနိဗ္ဗူ
အရောက်ကူမည့် - ရှစ်ဖြာမဂ္ဂ - စွမ်းအလှကို
ရမှု့သေချာ - သမာဓိဋ္ဌိ၊ ကောင်းစွာရှိ၏
ကြံမှု့~~သေချာ~~ - သင်္ကပ္ပလည်း - ရှိမှု့သေချာ
ဝါစာစကား သမဖြစ်ပုံ - အတွေ့ကြံနှင့်
တဖုံသမ - ကမ္မငှလည်း - သမဇီဝါ -
ဖြစ်ခဲ့ရာတည့် - သမာ ဝါယမ - သမ္မာဟနှင့်
ပေါင်းစပ်တည်ရှိ - သမာဓိကို - ပိုမိုခိုင်မာ
သမာသမာဓိ - အစဉ်ရှိထား ထိုသူအားလျှင် -
* ရှစ်ဖေါ်မဂ္ဂ, စွမ်းအလှနှင့်, - သူတော်ကောင်းဓါတ်
ခုနှစ်ရပ်တို့ , - ပေါင်းစပ်ဖြစ်တုံ
ဝိဇ္ဇာဘုံသို့ - ထိုသူထုတ်ချောက် - အဟုတ်ရောက်၏။

ဦးအောင်ဓမ္မသုခ နယ်လှည့်ဓမ္မဂန္ဓာရီ ခရီးသည်

## "ခြုံငုံဖြစ်စဉ် ရှုကြည့်လျှင်"

*　စတုဓါတု - လေးခုဓါတ်မဟာ
　　ပေါင်းစပ်ခါဖြင့် - ဖြစ်တည်လာရ - ဩကာသ

*　လောကဩကာ - မှီခိုကာဖြင့်
　　တဖန်ဖြစ်တည် - အလီလီသတ္တဝါ
　　　ဖြစ်တည်လာသည် - မှန်စွာမုချ - သတ္တသောက

*　လောကဖြစ်နေ - နှစ်ထွေသတ္တဝါ
　　ဖြစ်ဩကာလည်း - ဖြစ်၊ တည်၊ ပျက်၊ ချုပ်
　　　အဟုတ်မှန်စွာ - မဂ်သစ္စာနှင့်
　　ကြုံဆုံဖြစ်ရ - သင်္ခါရဟု - မည်တွင်ဖေါ်ထုတ်
　လူသမုဒ်၍ - မှတ်သားသည့် ပြုစဉ်သာဖြင့်
　သုံးမှာသောက - ဖြစ်တည်ရကို -
　　ဟုတ်တိုင်းမှန်စွာ - သိခွင့်သာသည်
　　　မြတ်စွာဗုဒ္ဓ - ဟောပေလို့
　　　　ဆင်ခြင်ဉာဏ်ထုပ် - သိစေဘို့

*　ထိုသည် လောက-သုံးဌာနနှင့် - ဖြစ်တည်နေကြ-သတ္တဝါစုံ အကြောင်းကုန်လည်း - ဖြစ်၊ တည်၊ ပျက်၊ ချုပ်၊ အဟုတ်မှန်စွာ မဂ်သစ္စာဖြင့် , ဖြစ်နေပါကြောင်း, သတိကောင်းနှင့် ထပ်ဆောင်း အကြွင့်, ရှိနေ**သင့်**မူ - သင်သည်မုချ - နိဗ္ဗာန်ရမည်။ မုချဧကန် မလွဲတည်း။

# "လှုပ်လျှင် ရ၏"

*  တရားလိုလျှင် - သင်သင့်ပြင်
    လေပင်ရှုမှတ်ရပါမည်
*  လေပင်ရှုမှတ် - တရားတတ်အောင်
    သင့်ကိုယ်ကောင်နှင့် - တွဲဖက်တည်ရှိ - စိတ်အသိကို
    ဦးစွာပဌမ - သင့်သမအောင် - မုချမှန်မသွေ - ပြုပါလေ
*  ဤသို့ပြုက - သမထဟု
    ပညတ်ခေါ်မှု - ဤစာစုကို - သင်ကမှတ်သား - သိပါစေ
*  နာမ်ရုပ်ပေါင်းစု - သမထအမှုကို
    ပြုကြိမ်ဖန်များ - သမာဓိအားသည်
    သင့်နားလာရောက် - ခိုလှုံတည်
*  ခိုလှုံလာရောက် - သမာဓိပေါက်လျှင်
    စူးစိုက်ဉာဏ်လွှာ - ဝိပဿနာအလုပ် - သင်လေလုပ်က
    မမြဲအနိစ္စ - ဖြစ်ဒုက္ခနှင့် - အစိုးမရဖြစ်အင်
    အနတ္တ-ခွင်ကို - သင်လေဉာဏ်ထိ
    စွမ်းအသိနှင့် - မုချသေချာ ရမည်သာတည်း
*  ထိုသို့အမှု- စူးစိုက်လုပ်ချိန် - အလုပ်အိမ်ဝယ် - ဖြစ်ချိန်တန်ရ
    ဝိသုဒ္ဓိဟု - ခေါ်ရတွင်တည် - ခုနှစ်လီရှိ - သဒ္ဓါ, သမာဓိ, တည်ရှိမှန်စွာ,
    ဆန္ဒာ, စိတ္တာ, သီလ, ဓမ္မာ, ပညာ - ရောယှက် ပေါင်းကာဖက်၍- ဝိသုဒ္ဓိ-
    ဖြစ်နေ - ချိန်ခါပေတည်း။
    ဤသည့်ဖြစ်ပုံ - အရကြံသည် - ဆောင်ကုန်ဓမ္မ အချိန်မို့ . . .။

# “ဆင့်ပွါး ဖြစ်တည်”

*  ဝိသုဒ္ဓိမဂ် - ဖြစ်, တည်, ပျက်, ချုပ်

ဟုတ်တိုင်းမှန်ရာ - စဉ်အလာကို -

များစွာညွှတ်ပြောင်း - သမာဓိဆောင်း၍

ပြုကောင်းဝိပဿနာ - ထိုစဉ်လာကို - သင်လေကြည့်ရှု -

သတိပြု။

*  ထိုစဉ်ကာလ - သမ္မုဟာတွင်

ပေါင်းစုံတွေ့ရ - နိမိတ္တများ

ဗဟိဒ္ဓ-ဝန်းကြင်- ရှေးယွင်နှင့် - ကြိုတင်ရာဂါတ်

သိစေတတ်သည့် - ပုပ္ပနမိတ် - ထင်ရှားစိတ်ဖြင့်

တွေ့ကြုံစုံရ - မုချသေချာ - ဖြစ်တည်သာသည် -

တရားနမိတ်အမှန်ပေမို့။

*  ထိုမှတပါး - ဆက်ကားရှုမှတ်

အထပ်ထပ်ပင် - ဖြစ်, တည်, ပျက်, ချုပ်

အဟုတ်မှန်စွာ - မဂ်သစ္စာကို - စိတ်မှာဆွဲခိုင်

အပိုင်ရထား ၊ အာရုံခြောက်ပါးနှင့် - ဖြစ်ပြားသတိ

အစစ်ရှိလျှင် - ဓမ္မသစ္စာ , မြတ်ဩဇာခွက် - လေးချက်သစ္စာ

သိပြင်သာမည် - ကြင့်ရာလမ်းကြောင်းမှန်ပေမို့။

# "မဂ်ဉာဏ်စိုက်ရောက် သစ္စာပေါက်"

*   ဓမ္မစဉ်လာ - လေးသစ္စာကား

ပေါင်းကာတည်စု - သမုဒယသစ္စာ

ဖြစ်ဒုက္ခာနှင့် - သစ္စမဂ္ဂ - နိရောဓမှန်

ဝိပဿနာဉာဏ်ကို - သင်သာတင်ရှု - သတိပြုရင်

မုခသေချာ - တွေ့ကြုံရာသည် - ဖြစ်စဉ်ဓမ္မအမှန်ပေမို့

*   ထိုသည့်ဖြစ်ထွေ - သင်ရလေက

သိဒ္ဓိဆယ်ပါး - ထင်ရှားရှိနေ - ဖြစ်စဉ်တွေသည်

သင့်ခံခိုလှုံ - ရောက်လာကြုံမည်

ဖြစ်ပုံဆန်းစွ - ကြင့်ဓမ္မ

*   ဤသို့ဖြစ်ရှိ - များသိဒ္ဓိနှင့်

ပြုမှုမျှော်မြင်၍ - သင်လေပြုက - သည်ဘဝတွင်

ပါရမီရှင်ဟု - လူတွင်မက - နတ်လောကနှင့်

ထင်ရှားသိစေ - အဖြစ်တွေကို - သင်လေခံစား

ပီတိများဖြင့် သတိဉာဏ်ကူ - အရယူလျက် - ပြုမူနိဗ္ဗာန်

အရောက်ကြံလျှင် - မုချကေန် ရောက်ကိန်းတည်း။

ဦးအောင်ဓမ္မသုခ - နယ်လှည့်ဓမ္မဂန္ဓာရီခရီးသည်

“ချိန်ခါမလင့် ပြုကြင့်ကုသိုလ် လဲထိုထို ”

* မေတ္တာပေါင်းစု - ကောင်းမှုအထွေထွေ
ပြုကြမနှေး - ဒါနအမှု့ပေ
နိုင်ငံသား - အများပြုကြပေ
* ကုသိုလ်ဒါန - ပြုကြသူငါ
ဦးထိပ်မှာထား - ဘုရားကိုသာ
ဟောမှုတရား - ပြုပြွားသံဃာ
သည်အောင်ပွဲ - ဝင်နွဲများသူငါ။
* ပြုလေကုန်ကြ - ကဆုန်လခေါ်တွင်
ဗောဓိပင်အောက် - စုပေါင်းရောက်သော်
ညောင်ရေသွန်းလောင်း - စုတောင်းမင်္ဂလာ
ပြုနေကြ - ကျင်းပဉ္စချိန်ခါ
* ဝါဆိုလပြည့် - ထင်ရှားနေ့တွင်
တရားသဘင်ပွဲ - စည်ကားသည်ပင်
ကျော်သာတစ်ရက် - ရောက်ခဲ့ပြန်ရင်
ထည်သင်္ကန်း - ဆင်မြန်းဝတ်စေချင်
* ဝါခေါင်လထဲ - ဆင်းနွဲရောက်လာ
စာရေးတံမဲ - ရှိမြဲမမှတာ
စာပြန်ပွဲလည်း - ပြုမြဲသည်သာ
တူတကွ - ပြုကြစုပေါင်းခါ
* တော်သလင်းလ - ရောက်ပအချိန်
စာတော်ပြန်ပွဲ - ဆင်နွဲရက်ရှိန်
ဝင်းထိန်တောက်ပ - အလှဂုဏ်ရှိသော်
ပါဝင်နွဲ - အောင်ပွဲခသည့်အချိန်

* သီတင်းဝါလ - ကျွတ်ကစဉ်မှု
မီးပူဇော်ပွဲ - ပြုမြဲအလှူ
ပါဝင်နွဲကြ - များလှဗိုလ်လူ
ချိန်ခါပွဲ - မလွဲအောင်မှု့ယူ
* တန်ဆောင်မုန်းလ - ရောက်ရချိန်ခါ
မီးပုံးပျံပွဲ - ဆင်းနွဲလို့သာ
ပျော်လို့မဆုံး - ပြုံးပျော်ရွှင်စွာ
လာသူများ - မုန့်လုံးရေပေါ်စာ
* နတ်တော်စစ်ပွဲ - ပြုမြဲချိန်ခါ
နတ်ဒေဝါများ - ပူဇော် ပူဇော
ပူဇော်ပွဲမို့ - အများသူငါ
ပြုကြအမြဲ - ဆင်နွဲအစဉ်လာ
* ပြာသိုလသို့, ရောက်သည့်အချိန်ခါ
လွှတ်လပ်အောင်ပွဲပြုမြဲသည်သာ
ပြည်သူအများ, စုပေါင်းညီညာ
ပါဝင်နွှဲ - အောင်ပွဲဆင်ကြတာ
* လတပို့တွဲ - ရောက်မြဲအစဉ်
ပြုကြထွမ်းနဲ - အောင်ပွဲသဘင်
လူထုအများ - စုပေါင်းပါဝင်
ဆင်းကာနွှဲ - စုပေါင်းစားပွဲဝင်
* လစဉ်ကုန်နှောင်း - တပေါင်းခါတွင်
ပြုကြသူအများ - စုပေါင်းကာပင်
ပါဝင်ဆင်နွှဲ - ပြုမြဲသဘင်
အောင်မြင်ပွဲ - ပြုမြဲသာအစဉ်

*   တကူးကာလ - ရောက်စချိန်ခါ
ပြုမူနေကြ - နှစ်တိုင်းအစဥ်လာ
ရေဖြင့်သွန်းလောင်း - အဟောင်းဖယ်ခွါ
နှစ်သစ်ကူး - အထူးပျော်မြူးရှာ

*   ပြုသမျှပွဲ - ဆင်းနွဲပါဝင်
ဘုရား, တရား, သံဃါအား အစဥ်
ပူဇော်ပွဲလည်း - ပြုမြဲပါဝင်
ဒါနပွဲ - ပြုမြဲစုပေါင်းပင်

*   မြန်ပြည်တလွှား - ရဟန်းရှင်လူ - ကုသိုလ်ဒါန - ပြုကြတူတူ
ဌာနေတည်းမို့ - စိတ်စွဲညီတူ - နှစ်စဥ်နွှဲ - အောင်ပွဲယူကြတူ

(သတိ)

*   ကောင်းမှုအလုပ် - ရအောင်လုပ်
ကောင်းမှုကျိုးစံ - အောင်ပွဲခံ

*   မကောင်းမှုအလုပ် - ရှင်းအောင်လုပ်
ရှင်းမှုကျိုးစံ - အောင်ပွဲခံ

*   မကောင်းမလုပ် - ကောင်းမလုပ်နှင့်
ငုတ်တုတ်အမှန် - နေတတ်ပြန်ရင်
သစ်ပင်မုချ - ဒုက္ခရလိမ့်

ဦးအောင်ဓမ္မသုခ - နယ်လှည့်ဓမ္မဂန္ထာရိခရီးသည်

## "ရှေ့ ရှု ကြည်ပါ နိရောသေစ္စာ"

*  အပွေး , အခေါက် , အကာဖေါက် ,
ရောက်ရှိအသား , အနှစ်များ - ပေါင်းထား , ပင်စည် , ခေါ်ပါသည်။

*  မြင် , ကြား , နံမှု , ရသာစု ,
ထိမှု, ကိုယ်မှာ ပေါင်းစပ်ခါ , ဖြစ်သာသင့်ခန္ဓာ ,

*  ဤသည့်ဖြစ်အင် , - အသိရှင် ,
ကြည့်လျှင် , - ရုပ် , - ခန္ဓာ

*  ထိုသည့်ရုပ်ခါတ် , - လှုပ်မှုကပ်
ငြိတတ်သေချာ , - နာမ်ခန္ဓာ ,

*  နာမ် , ခန္ဓာရုပ် - ပေါင်းကာထုပ်
အဟုတ်သေချာ - ချုပ်သည်သာ

*  လောကဖြစ်အင် - နေ့တိုင်းပင်
သင်လျှင်ကြည့်ရှု - သတိပြုက

*  ဖြစ်တိုင်း နာမ်ရုပ် - တမုဟုတ်
ဟုတ်တိုင်းမှန်ရာ - ချုပ်ငြိမ်းသည်သာ . . .။

ဦးအောင်ဓမ္မသုခ - နယ်လှည့်ဓမ္မဂန္ဓာရီခရီးသည်

## "လေ, မှ ကြည့်ရှုလေ့လာ နိဗ္ဗာန်ရောဝေသစ္စာ"

*   ငြိမ်းမှုပျက်ပြား - လှုပ်မှုအား
        မှတ်သား လေဟုခေါ်

*   လေ-စလှုပ်လျှင် - အေးမှုအစဉ်
        စတင်ဖြစ်ခါပေါ်

*   လှုပ်မှုများပြား - အပူအား
        ဆင့်ပွါးဖြစ်ခါပေါ်

*   အေးမှု ပူမှု - အစဉ်ပြု
        ယိုစီးဖြစ်မှုပေါ်

*   ယိုစီးကျလာ - ထိုရေလွှာကို - လေပင်ပိုက်ထွေး - လုံးဝန်းပေ၏
    ကာလရှည်ပိုင် - အနှစ်ထိုင်သော် - မြေစိုင်ခေါ်မှတ်
        သမုဒ်အပ်သည် - ဩကာသောက - ဖြစ်စဉ်တည်း

*   ဖြစ်စဉ် ဩက - မြတ်လောကသည်
    မငြိမ်လှုပ်နေ - ဖြစ်ထွေဆန်းလာ - သတ္တဝါတို့
        ဖြစ်တည်လာရ - ဘဝအထွေထွေ - ရလေသည်တွင် - မူရင်းလှုပ်မှု့

*   အကြောင်းပြု၍ - ကောင်းမှု - မကောင်းမှု - အကြောင်းစုဖြင့် -
ဖြစ်တည်ဘဝ, ချုပ်ပြန်ရသည် - လှုပ်မှုအရင်းခံပေမို့

*   ထိုသည့်လှုပ်မှု - အကြောင်းစုတွင် - ဖြစ်,တည်,ပျက်,ချုပ်, အဟုတ်မှန်စွာ-
ရှိနေရှာသည့် - မဂ်စဉ်တရား - ရှုပါများရင် - သင်သည်မုချ
သိသာရမည် - ချုပ်ငြိမ်းကေန် - မြတ်နိဗ္ဗာန်တည်း

# "လောက ဖြစ်စဉ်"

*  ဥစ္စာပစ္စည်း - မငြိးသေချာ
ဖေါက်ပြန်ပျက်စီး - ဖြစ်နည်းစဉ်လာ
သင်္ခါရမို့ , ဖြစ်ပျက်နေရှာ , - အမှန်ဘဲ, ပျက်စီး, ချုပ်ငြိမ်းမှာ။

*  ပညာ, ဉာဏ်စု , - ပြုကြသူတွေ
လွတ်ရာမှန်လမ်း - တက်လှမ်းနိုင်ပေ
စာစုအများ - ထင်ရှားရှိနေ
သင်သာရှု့ - ရမှုဖြစ်ကြောင်းပေ။

*  သင်ရဉာဏ်မှု - ပေါင်းစုစဉ်ခြင်
ဖြစ်တိုင်းနာမ်ရုပ် - ချုပ်မှုအစဉ်
ဘဝင်အသဲ - စွဲမြဲထင်ထင်
သင်သာရှု့ - အောင်မှု နိဗ္ဗာန်ဝင်။

ဦးအောင်ဓမ္မသုခ - နယ်လှည့်ဓမ္မဂန္ဓာရီခရီးသည်

## "ရနိုင် စွမ်းသည်"

* ဟုတ်တိုင်းမှန်ရာ - သင့်ခန္ဓာ
  သင်သည်မြင်စွမ်းရှိပါစေ
* ဟုတ်တိုင်းမှန်ရာ - သင့်စိတ်လွှာ
  သင်သည်မြင်စွမ်းရှိပါစေ
* ဤသည်နှစ်ခု - အကြောင်းပြု၍
  ကြည့်ရှုစာပေ - ဖတ်ပါလေ
* စာပေဖတ်က - သိဉာဏ်ရ
  သင်ကလူဖြစ် - မရှုံးပေ
* လူဖြစ်မရှုံးအောင် - သတိဆောင်
  ဥပဒေဘောင်တွင်းက - နေတတ်စေ
* ဤသို့ရှိသူ - များဗိုလ်လူ
  ကူညီဆောင်လို့ - စောင့်ရှောက်စေ
* စောင့်ရှောက်ခံရ - ထိုလူပ
  မုချချမ်းသာ - ရနိုင်ပေ
* မုချချမ်းသာ - ရသောခါဝယ်
  သင်သည်သတိ - အစဉ်ရှိ၍
  လောကလွတ်လမ်း - သင်လျှောက်လှမ်းရင်
  သင်ကားအမှန် လွတ်နိုင်ပေ. . .။

## "ချမ်းသာဖြစ်ခြင်း၊ အကြောင်းရင်း "

* သတ္တဝါခြင်း - သတ်ဖြတ်ခြင်း။
ရှောင်ကွင်းပါက - ချမ်းသာရ။

* သတ္တဝါခြင်း-လုယက်ခြင်း။
ရှောင်ကွင်းပါက - ချမ်းသာရ။

* ကာမဂုဏ်မှု-ကင်းအောင်ပြု။
ရှောင်မှု့တုံက - ချမ်းသာရ။

* သတ္တဝါခြင်း-လိမ်ပြောခြင်း။
ရှောင်ကွင်းဖယ်က-ချမ်းသာရ။

* မူးရစ်ထုံထိုင်း-အပျော်မှိုင်းနှင့်
မရိုင်းနုတ်ဟ-မပြုပါက
ကေန်မုချ-ချမ်းသာရ။

ဦးအောင်ဓမ္မသုခ-နယ်လှယ့်ဓမ္မဂန္တရီ-ခရီးသည်

## "မြင်နိုင်စွမ်းစေ"

* သုံးလူရှင်ပင်-ဘုရားသွင်
လူတွင်ဖြစ်တည်-ပွင့်ခဲ့ပြီ။

* ဘုရားဖြစ်-ထောင်မငြီးနား
မြတ်တရားကို-ဝါးလေဆယ်ငါး-ဟောခဲ့ပြီ။

* တရားရေအေး-တိုက်ကြွေးသွင်-ဘုရားရှင်သည်
ဇယာသဘောဝယ်-သက်ရှစ်ဆယ်တွင်-လူ့ဘုံအလှသည်လောကကို

* နှုတ်ဆက်ထွက်ခွာ-ထိုဆရာစကား
တရားဒေသနာ-ကွယ်ပျောက်မှာကို
လွန်စွာစိုးကြောက်-ထွန်းပေါက်ညက်သွား

ရှေ့သွားပေါင်းစု-စာပေပြုလျှက်-သံဃယတနာ-တင်ခဲ့ရာလည်း
သုံးဖော်လူတို့-ကောင်းစေဘို့

* သံဃာယတနာ-တင်ခဲ့ရာလည်း
ချိန်ခါလှည့်ပြောင်း-အောင်မေ့တသ-သတိရလျှက်
ဆဋ္ဌမအကြိမ်-ပြုချိန်ကျလာ-ဒို့မြန်မာ၌

သံဃာအခု-ပေါင်းကာပြု၍-လူထုဗိုလ်ပါ-များသူပါသည်
ညီညာတက်ကြွ-ပြုခဲ့ရသည်-တရားအမွေ အစစ်ပေမို့

* စာပေပြုမှတ်-တရားမြတ်ကို-ဖတ်မှတ်သင်ယူ-ညဏ်ဖြည့်ကူ၍
လုပ်ယူကြင့်ကြံ-အမြင်မှန်အောင်-သင်လျှင်ဆောင်က
အမွေရမည်-သံသရာမှ လွတ်စေဘို့

## "ဖြစ်စဉ်ကောင်းဖို့ကြံစေကိုင်"

*လေးပါးခေတ်အစ-ပေါင်းကာပြုသည်
စုမှုအပြီး-လောကကြီးတည်
လောကလုံးဝှမ်း-ဖြစ်ပုံစန်းသာ
လေးပါးခေတ်လျှင်-သူပြုပြင်သည်
*မျှားပင်သတ္တဝါ-ဖြစ်ခဲ့ပြီ
အများသတ္တဝါ-ဖြစ်ခဲ့လာလည်း
*သေချာစေ့ငု-ကြောင်းစုဝေဖန်
စဉ်ခြင်ညဏ်ရှိ-မိပတိကား
လူပင်မိကဖြစ်တော့သည်
*လူ့ဖြစ်မရှုံးမှု - ပေါင်းကာစု၍
အမှု့မပွေရေး-ဥပဒေရေးကာ
လိုက်နာဆောင်ရွက်-ကျေးလက်-မြို့ရွာ
စည်ပင်သာအောင် တပိုင်လှုံဆော်-
လွှတ်တော်တရပ်-သတ်မှတ်ပိုင်းခြား
အစဉ်သွားသည်၊သံသရာမှ
ကောင်းစေဘို့။
*လွှတ်တော်တရပ်-တည်ဆောက်အပ်ပြီး
ချမှတ်သမတ-ခန့်အပ်ဝန်မင်း
ရုံးမင်းအထွေထွေ-ပြည်သူတွေနှင့်
ညီညာဖျဖျ-ပြုပါကလျှက်
စိတ်ဝယ်ရွှင်လမ်း-သင်မျှော်
မှန်းသည့်-လောကီလပ်လမ်း
*ရောမှာမို့-ပြည်သူပျော်ဘို့-မော်စေကိုစ်
ဦးအောင်ဓမ္မသုခ-နယ်လှည့်ဓမ္မဂန္ထရိ-ခရီးသည်

## "နှိုးဆော်စာ"

ကောင်းနိုးရာရာ - ရေးမှတ်စာ
ဖတ်ရာအလွန်ကောင်း
ဖတ်ရှုကောင်းမှု - သတိပြု
ပြုစုကိုယ်မှာဆောင်
သိမှုရှုမှတ် - သတိကပ်
ထပ်ချပ်မေတ္တာပေါင်း
အသိ-သတိ-မေတ္တာရှိ
ပဂ္ဂိ သူတော်ကောင်း
သူတော်ကောင်းဓါတ် - လွှမ်းခြုံပါတ်
မြေတ်ကမ္ဘာ ဖြစ်စေကြောင်း
အောင်ဓါတ်မြန်မာရစေကြောင်း

## "အတွေ့အကြုံ"

* စာပေရှုမှတ် -အသိတတ်ရုံ
မျှားဘုံလူထွေ - မသိသေ
* အလုပ်ပေး၍- တွေ့မှုပေါင်းစုံ
အတွေ့အကြုံကို - ဖြစ်ညှစ်ထုပ်ယူ - သတိမူမှ
* သောကရှုပ်ထွေး -လွတ်ရန်ဘေးကို
ငါလေ ရေးရေး မြင်ခဲ့ပြီ-

ဦးအောင်ဓမ္မသုခ-နယ်လှည့်ဓမ္မဂန္တရီ-ခရီးသည်

## "ပြုရိုးမှန်လျှင်"

* မြတ်စွာဗုဒ္ဓ - ဦးနှိမ်ချ

ထူးစွပဏ္ဏာ - ရှိခိုးပါ

* ရှိခိုးမှုပြီး - သင်မငြီး

အပြီးသီလ - ယူလိုက်ပါ

* သီလစောင်ထား - ရှုမှတ်ပွား

ပြုပြားသမထ - ဝိပဿနာ

* ထိုသို့ပြုအပ် - သူတော်ခတ်

မပြတ်ပြုမူ - နေထိုင်ပါ

* သို့ပြုသောသူ- အာဂလူ

ရယူအောင်မှု - နိဗ္ဗူတာ

* လောဘ,ယ ဒေါသ, - မောဟ,ယ မာန်ကိန်း

အပြိန်းသူမိုက် - ဒုစရိုက်မှု

မပြုရှောင်ရှား - နေ့စဉ်အားလျှင် - သတိရှင်၍

* ဘုရား, တရား, သံဃာ, အားကိုး

အသိထိုးဖောက် - ဉာဏ်မြင့်ရောက်အောင်

သင်လေကြိုးစား - ပြုမှုသွားရင်

ဧကေရ်ထုပ်ချောင်း - ဒုက္ခပျောက်သည့်

လွပ်လမ်းအမှန်-မြတ်နိဗ္ဗာန်သို့

အမှန်ရောက်မည် မလွဲတည်း

ဦးအောင်မမွသုခ-နယ်လှည့်မမွဂဏ္ဌရီ-ခရီးသည်

# "သတိပေးစေခြင်း"

*　ဘာတွေဖြစ်ဖြစ် - စိတ်မညစ်နှင့်
လုပ်သင့်လုပ်ရာ လုပ်နေပါ

*　ဘာတွေ တွေ့တွေ့ - သင်မမေ့နှင့်
အားကိုးစရာ - ထင်ရှားရှိသား - မြတ်ဘုရားကို
မုချသေချာ - ကိုးကွယ်ပါ

*　ဘာတွေ ပေါ်ပေါ် - သင်မချော်နှင့်
ထင်ပေါ်ရှိသား - မြတ်တရားကို
လက်စုပ်လက်ကိုင် - အပိုင်ရယူ
သတိမူ၍ - လိုရာခရီး - မညီးမငြူ - ပူပင်ကင်းပျောက်
အအေးရောက်အောင် - သင်ပင်တောက်လျှောက်ချီတက်ပါ

*　ဘာတွေပြောပြော - သင်မယောနှင့်
စောင့်စားနားထောင် - ရအောင်ယူမှတ်
သတိချပ်၍ - မပြတ်လုံ့လ - ဝရိယထုပ်
ပါတ်တကုတ်နှင့် - ကိုယ်တွေ့တရား - ရအောင်ပွားလော့
သင်ကားထုပ်ခြောက် - ခရီးပေါက်မည်
မုချကေန် - ပြင်ကိန်းတည်း

ဦးအောင်ဓမ္မသုခ-နယ်လှည့်ဓမ္မဂန္တရီ-ခရီးသည်

# "အဟောတ်စကား – အလုပ်တရား"

*  ဗုဒ္ဓဝင်စာလွှာ - မှတ်တင်စာ၌
ကြိုသိ - ရိသိ - ရသေ့ရှိသား - ထင်ရှားမှုပေ
လူသိချေအောင် ရေသွင်းစာလွှာ -ပြုအပ်ပါသည်
လောကီသူတို့ - ရှင်းစေဘို့

*  ရှေးသရောခါ - လူတို့ဌာဝယ်
ရှာဖွေအမှု - လွပ်လမ်းစုကို
ကောင်းနိုးရာရာ-စဉ်အလာနှင့်-ပညာအစွမ်း-စူးစမ်းစဉ်ခြင်
ဉာဏ်သက်ဝင်သား-ရသေ့များသည်-မှတ်သားအမှန်ရှိခဲ့သည်

*  ရှိသည့်ရသေ့ - တောပျော်မွေ့၍
ပညာစခန်း - ဓါတ်နန်းဓါတ်အိမ်
ကင်းငြိမ်းပျောက်စွာ - ဖြစ်ရောဂါနှင့်
အာကာပြိုလ်ခွင် - လှည့်ပါတ်စဉ်အား
အမြဲဂရု - သတိပြုစေ-ရွှတ်လေမဏ္ဍာ-သမူဟာနှင့်
တွက်ချက်ဝေဒ- တွေးထ, အင်း, အိုင်
ပြုခိုင်,ဓမ,-ပညာဝအောင်-လှည့်လည်သွားလာ
ပညာရှာသည့် - ဂန္ထိရ, အလုပ်-တကုတ်ကုတ်နှင့်
လက်ကိုင်အားထား-သစ္စာစကားကို - ပြုစေနန္ဒ-ကြိုသိပရန
မည်ရခေါ်တွင် - ရသေ့အရှင်သည်-
ပါရမီစခန်း - ထွက်ရပ်လမ်းကို -မျှော်မှန်းကာထောက်
တရားပေါက်အောင်-ပရိယတ္တ-ဆိုဆုံးမနှင့်-အလုပ်ဟူတွေ-ပရိပတ်တွေကို
ဝေဖန်ပိုင်းရှု - ပရိဝေဒ-ပြုကုန်ကျလျှက် - ဗြို့မှ ခွာလော့်
တောမှာပျော်သည် - သံသရာမှ လွပ်စေဘို့-

ဦးအောင်ဓမ္မသုခ-နယ်လှည့်ဓမ္မဂန္ထရီ-ခရီးသည်

# "ဂယာဝါသ ရသေ့သုံးမျိုး"

* ရှိသည့်ရသေ့ - ပျော်မွေ့ထုံအင်
    သူ့ဖြစ်စဉ်ကို - သေချာစေငှ - ကြည့်ရှုလေ့လာ - ပြုသောခါဝယ်
* ဂယာဝါသ - ပြုထုံလှလည်း
    ကိုယ်ခြင်းစာနာ - ဇာဂတရား - ရှိသည်များကို
        စိတ်မှာခံစား - သိရှိထား၍ - တရားခုံမင်
            ဉာဏ်သက်ဝင်းလည်း - အိုးအိမ်ကိုခွဲ - မနေရဲသေး
* အိုးအိမ်ရွာသစ် - နေရစ်ပါစေ - ပြုနိုင်ချေလည်း
    တွဲလေနှစ်မ - စိတ်မချမှု - သတိပြုနေ
        ရှိသည့်အခြေကြောင့် - နှစ်ဖေါ်တောတွင်း - နေထိုင်ခြင်းဖြင့်
            တရား,ဘာဝနာ - ပွါးများကာဖြင့် - တောင်ယာလယ်လုပ်
                အမှုရှုပ်ကို - ပြုလုပ်နေဆဲ - ပြုနေဆဲလျှင်
* ပညာသိမှီး - အရပြီးယူ - တမူညွှတ်ပြောင်း
    အိမ်အောင်း - ဝနေ - လှည့်စီနေ၍ - ပြုလေပညာ-တရားရှာရင်း
        ဝနေတာရပ် - လှည့်ပါတ်သူနေ - အိမ်ခြေပြန်ရောက်
            ခေါက်ခေါက်ခါခါ - ပညာရှာလျှက် -
* ဤသို့ခွဲခြား - ရှုကြည့်သွားသော် - ဂယာဝသာ - ပြုနေကပင်
    တရားမင်လျှက် - ခုံမင်ကြိုးစား - ပညာများကို - ယူထားအကုန်
        စုံနိုင်သမျှ - ပြုမှုကြသည့် . . .။

ဦးအောင်ဓမ္မသုခ နယ်လှည့်ဓမ္မဂန္ဓာရီ ခရီးသည်

# “ဗျာကာရ – ရသေ့သုံးမျိုး”

- ပညာသိုမှီး - စုစည်းရထား - အသိများနှင့်
  လောကီ,လောကုတ် - နှစ်ရပ်အလုပ်ကို
  တပ်မက်ခုံမင် - ပျော်ရွှင်ပြုခါ - မြို့စည်သာနှင့်
  ဝနေတောရပ် - ထပ်တပ်ရွှေ့ပြောင်း - အကြောင်းစုံလှထိုဘဝ
- နက္ခတ်တာယာ - ကောင်းကင်သာနှင့်
  နေ့စဉ်ဖြစ်တပ် - အကြောင်းမြတ်ကို
  ဖတ်အပ်နမိတ် - အတိတ်-တဘောင့်အရဆောင်သား
  ဖေါ်စပ်ဆေးစွမ်း - ဓါတ်ခန်းအင်္ဂါ
  ပြုသည့်ဂန္ဓ, ရမ္ဘတရား - အသိများကို
  ဆင့်ပွါးများအောင် - အရဆောင်လျှက် -
- နှစ်စဉ်ကြုံရ - ဆယ်နှစ်ရာသီ
  ကြုံမည်တဝ - ရောက်ကာလ၌
  ဤလဤတွင် - ဤဖြစ်အင်နှင့် - ကြုံငင်ဖြစ်ဆိုက်
  ရောက်ဆိုက်မှတ်သား - ပြုမှုများကို - ပြောကြားပေးရ
  ဗျာကာရ-ဟု - ခေါ်တွင်မည်တပ် - ရသေ့မြတ်တွင်-
  ထက်၌ရေးဖေါ် - ရှိနေသောကြောင်း
  သိကောင်းစရာ - ရေးမှတ်ပါသည် - အများဗိုလ်လူ
  ရှင်းစေဘို့ - ရသေ့ပြုမှု - သိစေလို့

ဦးအောင်ဓမ္မသုခ နယ်လှည့်ဓမ္မဂန္ဓာရီ ခရီးသည်

# "တိဿဓူရ – နိက္ခမ ရသေ့သုံးမျိုး"

ပရိယတ် - ပရိပတ် နှင့် - ပရိဝေဒ သုံးမှုဟာကို
နှံ့စပ်ဖွေရှာ - သိသာခိုက်ကြုံ - ပြည့်စုံပညာရှာမှီးခါဖြင့်
ပညာကိုယ်လုံ - အသိစုံသား - ရှစ်ပါးဝိဇ္ဇာ - တတ်မဟာကို
သေချာစေ့ငု - လေ့လာပြုထား - နှောင့်ယှက်အားသန်
မှတ်ရန်ဆယ်နှစ်ဝ, - ရှိထမျှော်ဝင် - သိမြင်ရပေ
ပညာတွေနှင့် - ဖြစ်လေကာလ - ဆယ်နှစ်ရာသီ
မညီငြိမ်းညောင်း - ပြောင်းလည်းဖြစ်စဉ် - မြစဉ်ခြင်း၍ - သတိ
တရား - ပွါးများရှိစေ - ပြုလေဂန္ဓ - ဖြည့်ပါရမီ - အလီလီနှင့်
တွေ့ကြုံဆုံရ - များလှထွေထွေ - မိတ်ဆွေသင်္ဂဟ - ဟောပြတရား
ကြင့်စဉ်များနှင့် - ဖြည့်ငြားပါရမီ - အရသယ်သည် - တိဿဓူရ
မည်ရခေါ်တွင် ရသေ့ရှင်တည်း - ထိုတွင်ဓူရ, တိဿဖြစ်အင်
စန်းစစ်လျှင်လည်း - ရဟန်းဘဝ - ပြောင်းရွှေ့ရောက်သူ -
တမူထူးခြား - ကိုရင်များမှ - ရဟန်းမခံ - ရသေ့စံမြောက် -
ရောက်ကြသောသူ - နှစ်ရပ်မူ၏ - ဤသည် တိဿဓူရသေ့ - သတိ
မမေ့အောင် - ရေးသားစင်ခြင် စာရေးတင်သည် - ဗိုလ်,ရှင်, လူ တို့သိစေဘို့
ထိုမှတဖုံ - ကြင့်ပုံဆန်းပြား - အဖြစ်များကို
ဥပေက္ခာမှု့ - လစ်လျူရှု့ပြီး -
ဝနေတောရပ် - ခိုလှုံအပ်၍
တရားကြင့်မှု့ - အစဉ်ပြုနေ
လူတွေပြေးရှောင်း- တောတွင်းအောင်းသည့် - ရသေ့ဖြစ်ရ
နိက္ခမတည်း - အများသိစေ - ဖေါ်ချွတ်ပေသည် - သိစေကောင်းမှု့
ဖြစ်စေဘို့ . . . ။

## "သွားမှန်ပြကြ ရယူနိုင်"

◆ သင့်ခန္ဓာနာမ်ရုပ် - သင်အဟုတ်ဉာဏ်ဆင်ခြင်
ရှုကြည့်စေချင် -

◆ လေဝင်နှင့်လေထွက်သည်ပင် - ရှုကြည့်စဉ်မမြဲ
တဆက်တည်းဖြစ်နေသလို - စိတ်ကထင်ပို

◆ ပါဠိအခေါ် အနိစ္စ - မိဋ္ဌမို့သင်မြင်
ဝင်ထွက်ဆင်ခြင် - အမြင်ကဲ့သို့သတိပိုရင်
ဖြစ်မြဲကိုယ်ဒုက္ခနဲ့ - အနတ္တ-စိုးမရပါသိမ္မှုသချာ -

◆ သက်ဝင်သည့် ဉာဏ်မဟာသည် - ဝိပဿနာဖြစ်ရှိုး
အဆင့်တိုးရှုကြည့်ပြန်သော် - ချုပ်ငြိမ်းမှုပေါ် -
ဖြစ်, ပျက်, ချုပ် - နှစ်မပေါ်သည် ရှုကြည့်သော်ဖြစ်မြဲမို့
သင်က, ကဲ့ရှုကြည့်စရာ - မဂ္ဂသစ္စာ

◆ ပေါင်းစုံစု, လေးခါတ်မဟာသည် - သမုဒယာဖြစ်မြဲ
တမူကဲ၍ ဖြစ်ရသည်မှာ - ဒုက္ခသစ္စာ
မတည်မြဲလို့ ဖြစ်မှုသေချာ - သစ္စာမှန်မဂ္ဂမို့
ရှုမြဲနဲ့ဆင့်ကဲပိုမို - နိရောဓကို

◆ ဆိုက်ရောက်မှု - အသိမှန်စွာ
ဉာဏ်ပညာဆင့်ကဲလို့ - ဖြစ်, တည်, ပျက်, ချုပ်
အဟုတ်မှန်စွာ - နိရောဓသစ္စာ - ကိုယ်တိုင်ရတရားစစ်ကို
ခင်မင်စွာတွယ်တာလို့ - နေ့စဉ်ပွားရအောင်ရှုနိုင် -နိဗ္ဗာန်သို့တိုင်
သင်ကြင့်လို့-လှမ်းကိုင်နိုင်မည် - အရပိုင်လွတ်လမ်းကွယ်လေး။

ဦးအောင်မေွသုခ နယ်လှည့်မေွဂန္ဓာရီ ခရီးသည်

# "အချိန်ရှိခိုက် လှုံ့လစိုက်"

◆ သံသရာဝဲဩဃ - ရုံးမရမထွက်နိုင် - ငွေမောလို့မှိုင်
　　ပြုခဲ့သမျှ - အကုသလတွေရယ် - ဆွဲကိုင်ခါလှုပ်ရမ်းလို့
　　　　ဝင်စခန်း တရားမထိုင်နိုင် - ချုံးပွဲချငိုင် . . . .
◆ ချိန်ရှိတုံးက - သတိခိုင်ကို - မစွတ်ယူငင်မသုံး
　　ပြုအုံးဟဲ့ - မဟုတ်ထွေမဟာ - ခုတော့မသေချာ-
◆ ပြုခဲ့သမျှ - အကုသလ ဗွေမဟာ - ခုချိန်ခါဖိစီးလို့
　　နင်မငြိုးမလှုပ်နိုင် - ငရဲသို့တိုင်
　　　　အမှန်ဖွဲ့နဲ့-နင်ရောက်နိုင်သည်-သတိမူမှတ်စမ်းပလေး
◆ ဒို့ဘုရားက မှာတမ်းချွေတာ - လူ့လောကရွာ -
　　သင်ရောက်လို့နေစဉ်ခါဝယ်-လူများနော်ဖေါ်ရွှေစုရယ်နဲ့
　　　　သင်ပြုသမျှသင့်ကုသိုလ်- မျှပေးဝေလို့ဆို
　　　　　　ပြုသမျှအထိုထိုတွင်-မြတ်ကုသိုလ်ရှေ့ရှု့လို့
　　　　　　　　စိတ်ထားဖြူစွာလေ-ပြုကြင့်ရပေ-
◆ ဝိသုဒ္ဓိ သီလနဲ့ - ဒါနမှုအရ[illegible]င် - သင့်လုပ်ရပ်အောင်
　　ကောင်းမှုနဲ့သင်ဦးဆောင်ရင် - သင်လူ့ဘောင်အထက်တန်း
　　　　စံမြန်း၍ သင်နေနိုင် - ရယူခွင့်ပိုင် -
◆ ဤမျှကောင်းသည့်, သတိခိုင်ကို - သင်ရယူ-သင်ပြုလို့
　　ဖေါင်ကူးတို့ဖြင့် , ပြည်နိဗ္ဗာန် - သင်ရောက်ဝင့်စံ -
　　　　တရားမြတ်မူအမှန် - သင်ပြုရန် ချိန်ကျပြီမို့လေး
　　　　　　သင်ထူးစံ, ချိန်ရပြီမို့လေး . . . .။

ဦးအောင်ဓမ္မသုခ-နယ်လှည့်ဓမ္မဂန္ထရိ-ခရီးသည်

# "လှုပ်လျှင် ရမည်"

➢ လေးရှုံစပါယ် - ပွင့်ခဲ့တယ်

လူ့ဘုံဌာန - ဤဘတ္တ -

➢ နောက်ပွင့်ရှုံကျန် - ဗုဒ္ဓမှန်ကို

ဖူးရန်ညို့ထွေး - ခေါင်းဖြီးလေးဟု

ရေးမှတ်စာဖေါ် - ထိုသူတော်၏

သင်ကားကြည်ဖြူ - အရယူသော်

သင်ပင်ရနိုင် - တရားခိုင်ကို

ပိုင်ဆိုင်မှီဝဲ - သုံးဆောင်မြဲက

ဤဘတ္တ၌ - ပွင့်လာဗုဒ္ဓ

သင်ဖူးရကြဲ့ - တရားစုံနှင့်

လိုက်ပါကြဲ့ရ - နိဗ္ဗူတကို

သင်ကားပိုင်ပိုင် - တက်လှမ်းနိုင်သည်

ကောင်းတရားလုပ် - လုပ်နေဘို့ -

ကြိုးစားအားထုတ်နေပါကိုင်။

ဦးအောင်ဓမ္မသုခ နယ်လှည့်ဓမ္မဂန္ဓာရီ ခရီးသည်

# "ပညာမတာတ် သင်ရှက်တာတ်စေ"

➢ ပညာဥာဏ်နည်း - စာတတ်ဘဲနဲ့
ရပ်ထဲလျှောက်လည် - သင်ရှက်ဖွယ်
➢ ဖေါ်ညွှန်းရေးသား - စာပေများကို
သင်ကားမဖက် - မတတ်ရောင်ဝါး
ပြုမူမှားကြောင့် - သောကအလည် - သင်ရှက်ဖွယ်
➢ ဤသို့ဖြစ်အင် - မဖြစ်ချင်လှ
သင်ကိုယ်ကပင် - ဉာဏ်နှင့်ယှဉ်၍
စာကိုကြိုးစား - သင်ယူထားရန်
ချိန်ခါမျှော်ရှု - အာရုံပြုလော့
➢ ရှေးရောအခါ - ဒို့တိုင်းဌာန်
မည်တွင်ခေါ်လေ့ - ဦးကျည့်ပွေ့ဟု
ခေါ်တွေ့လူနှယ် - သက်ခြောက်ဆယ်တွင်
သွားရှင်းတန်ပူ - နေ့တိုင်းယူ၍
ရှင်းမှုခံတွင်း - ပြစ်သွင်းကျင်းမှာ - မို့မောက်လာကို
သေချာကြည့်ရှု - သိမှုဉာဏ်သွင်း - ဤတွင်းပြည့်ပုံ
အလုံးစုံကို - ခြုံငုံသုံးသပ် - စာပေတတ်အောင် - မပြတ်ကြိုးစား
ငါလုပ်သွားရင် ဖြစ်ပြေးကေန် - စာတတ်မှန်ဟု -
မှန်စွာဆုံးဖြတ် - ကြိုးစားအပ်သည်
စာတတ်ပျော်မွေ့ - ဦးကျည်ပွေ့ဟု
ပြုရေးစာစီ - ရှိခဲ့ပြီတည်း -
ဤသို့ပြုအပ် - သင်စာတတ် - မုချဖြစ်အောင်သာ -

ဦးအောင်စမ္မသုခ နယ်လှည့်ဓမ္မဂန္ဓာရီ ခရီးသည်

# "ယခင်မှ သည် ယခုဆီသို့"

ရှေးစဉ်အခါ - လူတိုင်းဌာဝယ်
လူပင်ဖြစ်လပ် - ဝနေအရပ်၌
လှည့်ပါတ်သွားလာ - ဖြစ်တုံလာခဲ့
ထိုမှတမူ့ - ပေါင်းကာစု၍
ဝနေတောင်စောင်း - ဂူအောင်းဖြစ်တည်
ဝလီဘဝ - ဖြစ်ခဲ့ရသား - လူအများသည်
ဘာဝဖြစ်တည် - အမှိုပြုအပ်
စိုက်ပျိုးတတ်၍ - မြေမြတ်နေရာ
ရှာဖွေကာလျှင် - နေရာရွှေ့ပြောင်း
အဟောင်းဖြစ်ခွာ - အသစ်ရှာ၍
ပြုကာဝလေ့-တဖြစ်တွေကြုံ-ဘဝစုံခဲ့
စိုက်ပျိုးဖွေရှာ - နေလာကြုံခိုက်
တိုက်ခိုက်စိုးသူ - တမူပေါ်ပေါက်
လွန်စွာကြောက်၍ တင်မြှောက်စိုးမူ
ရဲရင့်သူကို - ခေါင်းဆောင်တင်မြှောက်
အကြံပေါက်စွာ - စုဝေးကာဖြင့်
ညီညာဆုံးဖြတ် - လွှတ်တော်တရပ်သည်
ထိုခေတ်ကာလ, ပေါ်ခဲ့ပြီ -
လွှတ်တော်တရပ် - ပြုအပ်သချာ
တင်မြှောက်ခါလျှင် - သမတမင်း
ဖြစ်ခြင်းတဝ - ဥပဒေသနှင့်
မျှတညီညာ - အုပ်စိုးလာသည်
လူတွင်ဖြစ်ရ , ထိုကာလ

မယဉ်မကျေး - ဝနေတောင်စောင်း
ဂူအောင်း - စိုက်ပျိုး , အမျိုးမျိုးဘဝ,
နေထိုင်လာရ - လူ့ဘဝတွင်
စတင်ဖြစ်ပေါ် - လွှတ်တော်တရပ် - ဖွဲ့စည်းလပ်၍
ခန့်အပ်သမတ - မျှားလှဝန်မင်း
ရုံးမင်းထွေထွေ - ပေါ်ထွန်းချေပြီ
လူနေယဉ်ကျေးလာပြီမို့
ယဉ်ကျေးလူ့ဘုံ - ဖြစ်တုံလာရ - ထိုကာလ၌
ဗုဒ္ဓမြတ်စွာ - ပွင့်ထွန်းလာသည် - ဦးစွာပဌမ - ဒီပင်ခယ
ထိုသို့များစွာ - ပွင့်ထွန်းလာသည့်
ဂင်္ဂါဝါဠု - သံစုမက - ညွှန်းဆိုပြသည်
ဗုဒ္ဓများစွာ - ပွင့်ထွန်းခါကို -
ငါလေကြုံကြိုက် - မဆုံလိုက်ရ - ဒီဘဝထိ
ဤသို့ဖြစ်အင် - ဉာဏ်ဆင်ခြင်၍
ရှုမြင်မှတ်သား - သိထားစာပေ
မလေသတိ - အစစ်ရှိထား
မြတ်တရားကို - ကြွင့်ထားဖွေရှာ - သိတတ်ပါသည်
ဖြစ်တိုင်းနာမ်ရုပ် - တမူဟုတ်ပင် - ချုပ်ငြိမ်းစဉ်ကို
နေ့စဉ်ရှု့မှတ် - မပြတ်ပွါးများ ပြု၍ထားလျှင်
ကေန်ထုပ်ခြောက် - နိဗ္ဗာန်ရောက်မည်
သံသရာမှ လွပ်လမ်းတည်း . . . . ။

ဦးအောင်ဓမ္မသုခ နယ်လှည့်ဓမ္မဂန္ဓာရီ ခရီးသည်

# "ကြည့်တတ်စေ"

▶▶ စာပေမြတ်အလှ - တတ်ပါမှ
မုချသေချာ - လူတို့ရွှာ။
▶▶ ပညာသိပ္ပ - တတ်ပါမှ
မုခသေချာ - လူတို့ရွှာ။
▶▶ ပေါင်းဖေါ်ကောင်းစွ - တတ်ပါမှ
မုချသေချာ - လူတို့ရွှာ။
▶▶ ရင်းနှီးမှန်စွ - တတ်ပါမှ
မုချသေချာ - လူတို့ရွှာ။
▶▶ နေထိုင်မှန်စွ - တတ်ပါမှ
မုချသေချာ - လူတို့ရွှာ။
▶▶ ပြောဆိုမှန်စွ - တတ်ပါမှ
မုချသေချာ - လူတို့ရွှာ။
▶▶ လုပ်မှုမှန်စွ - ပြုပါမှ
မုချသေချာ - လူတို့ရွှာ။
▶▶ ကြိုးစားမှန်စွ - ပြုပါမှ
မုချသေချာ - လူတို့ရွှာ။
▶▶ ဤသို့ဖြစ်အင် - ဉာဏ်ရှင်စဉ်းစား - ပြုကာသွားမှ
ကောင်းမှုသေချာ - လူတို့ရွှာ ။

ဦးအောင်ဓမ္မသုခ နယ်လှည့်ဓမ္မဂန္ဓာရီ ခရီးသည်

# " ဆင်ခြင်သင့်ပါပြီ "

✵ အလှမှာ ဂုဏ်ဆင့် - ဟန်ဝင့်သို့မနေသည်
ဖြစ်သင့်လှပြီ - ရောက်လာရ, လူ့ဌာနမဟီ
ညစ်ပသီရှုပ်ထွေး - နောင်အရေးဖြင့် ရင်လေးစရာ
ပြည့်နက်နေတာ။
ဆင်ခြင်စမ်းပါ့ - ဒို့လူမဟာနွယ်
ပြုကွယ်တွေအလီလီရှိပါတဲ့ - ဒို့လူ့ရွာစခန်း
တုယှဉ်ဘွယ် သာယာတွေပေါ်ပါတဲ့ . .
မြတ်နိဗ္ဗာန်လမ်း . . . . ။

✵ မိုက်ဇာတ်ခုံဂုဏ်ဆင့် - ဟန်ဝင့်လို့မနေသည်
ဖြစ်သင့်လှပြီ - ရောက်လာရ, လူ့ဌာနေမဟီ
ညစ်ပသီရှုပ်ထွေး - နောင်အရေးဖြင့် ရင်လေးစရာ
ပြည့်နက်နေတာ။
ဆင်ခြင်စမ်းပါ့ - ဒို့လူမဟာနွယ်
ပြုကွယ်တွေအလီလီရှိပါတဲ့ - ဒို့လူ့ရွာစခန်း
တုယှဉ်ဘွယ် သာယာတွေပေါ်ပါတဲ့ . .
မြတ်နိဗ္ဗာန်လမ်း . . . . ။

✵ ရောင်တောင်ဟုတ်ပြီထင့် - ဇာန်ဝင့်လို့မနေသည်
ဖြစ်သင့်လှပြီ - ရောက်လာရ, လူ့ဌာနေမဟီ
ညစ်ပသီရှုပ်ထွေး - နောင်အရေးဖြင့် ရင်လေးစရာ
ပြည့်နက်နေတာ။
ဆင်ခြင်စမ်းပါ့ - ဒို့လူမဟာနွယ်
ပြုကွယ်တွေအလီလီရှိပါတဲ့ - ဒို့လူ့ရွာစခန်း
တုယှဉ်ဘွယ် သာယာတွေပေါ်ပါတဲ့ . .
မြတ်နိဗ္ဗာန်လမ်း . . . . ။

ဦးအောင်ဓမ္မသုခ နယ်လှည့်ဓမ္မဂန္ဓာရီ ခရီးသည်

# "သတိပြုလျှင်"

* လောက, ကျောခိုင်း - ဟုတ်တိုင်းမှန်စွာ
ထိုမသာကို - ငါလေကြည့်ရှု - သတိပြုမှို။

* လူ့ရပ်ရွာတွင် - မသေခင်က
ထိုသူ့အဟုတ် - ဘာတွေလုပ်သည်
ကြည့်ရှုလေ့လာ - စနည်းရာ

* လောကလူ့ခွင်- သူရှိစဉ်က
သူပင်လုပ်သွား-ကောင်းမှုများကြောင့်
စည်ကားမြိုက်စွာ-သူ့မသာကို-များစွာလူတို့-လိုက်ခါပို့

* လောကလူ့ခွင်-သူရှိစဉ်က
သူပင်လုပ်သွား-မကောင်းမှုများကြောင့်
မစည်ချောက်သွေ့-ပို့သူမေ့သည်-သူပြုသမျှ-ဖြစ်ခဲ့ရ

* ဤသည့်ဖြစ်မြင်-နှစ်ရပ်ခွင်ကို
ဝါလေစဉ်းစား-သတိထားမိ

* သို့ကြောင့်ဆင်ခြင်-ညဏ်သက်ဝင်၍
လူတွင်ရှိခိုက်-မှန်စရိုက်ဖြင့်
ငါလေကျူးသည့်-မပြတ်တရား
ရှုနိုင်ဘြားမှ-ဇကန်ထုပ်ခြောက်-လွပ်လမ်းရောက်မည်
ဖြောင့်မှတ်ဉာဏ်စဉ် ရပေလို့။

ဦးအောင်မေ့သုခ နယ်လှည့်မေ့ဂန္ဓာရီ ခရီးသည်

## "စုတောင်း"

နိဗ္ဗာန်ဆောင်-ဖောင်ကူးတို့ဖြင့်-ဆောင်ပို့လို့ပြီးပြီး

* မရေးတတ်-ရေးတတ်နဲ့-စာတွေစီ-ပြုမိပြီမှန်မို့

ပညာနို့စို့တဲ့ကလေးငယ်လို-ခွင့်လွှတ်ပါလို့အရေးဆိုမည့်

မပြည့်သေးတဲ့အရေးစာကို ခွင့်လွှတ်ပါလို့အရေးဆိုမည်

သတိပေးသမို့-အရေးမမှန်ရင် ......။

ဉာဏ်စဉ်ခြင်ဖတ်ပါလို့လေး......။

ဉာဏ်စဉ်ခြင်ဖတ်ပါလို့လေး....။

## "စုတောင်း"

မတက်-တတပ်-စာရေးအပ်

* ပြုတက်သေချာ-ခွင့်လွှတ်ပါ။

သိစေပါကြောင်း-စိတ်ထားကောင်း

* အကြောင်းကိုသာ-ဖော်ထုတ်ခါ။

ရေးသားဖော်ပြ-သမူမါ မှာ

* မုချသေချာ-ကြင့်စေချင်တာ

ဤသို့ရေးချ-မျှဝေငှသည်

* မပြည့်မစုံ-ငါဖြစ်ပုံကို

သင်သေတွေး၍-ခွင့်လွှတ်မှုဖြင့်

ငါ၏ရေးသားမှား-ဖတ်ပေးပါလော့

တောင်းပန်တိုးလျှို့-ကန့်တော့ချိုးကို-သင်လေသိးခံဖတ်ပါလော့

ဦးအောင်ဓမ္မသုခ နယ်လှည့်ဓမ္မဂန္ဓာရီ ခရီးသည်

ဗိုလ်ကြီးဒေါက်တာညီညီဖော် + ဒေါ်သက်ချစ်ပိုင်

မိသားစုတို့မှ

ဓမ္မဒါနပြုသည်။

"ဟိန်း" ကွန်ပျူတာ၊ နေပြည်တော်မြို့မဈေး၊ ၀၆၇-၄၂၀၄၁၆

